ကုမ္ပဏီအမည် - Nutrifood Products Company Limited.

လုပ်ငန်း - ငါး၊ ပဲအမျိုးမျိုးနှင့် အသီးအနှံများကို စည်သွပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၁၆-၁၁-၂၀၁၆ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေး (၄၃/၂၀၁၆) သို့ တင်ပြခြင်း | ၂၁-၁၁-၂၀၁၆ | | |
| ၃ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၂၅-၁၁-၂၀၁၆ | | |
| ၄ | သဘောထားမှတ်ချက် တောင်းခံခြင်း<br>(က) စက်မှုဝန်ကြီးဌာန<br>(ခ) သံယံဇာတနှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန<br>(ဂ) ရန်ကုန်တိုင်းဒေသကြီး အစိုးရ အဖွဲ့ | <br>၆-၃-၂၀၁၇<br>၃-၃-၂၀၁၇<br><br>၆-၃-၂၀၁၇ | <br>၂၀-၃-၂၀၁၇<br>၈-၃-၂၀၁၇<br><br>၂၉-၃-၂၀၁၇ | |
| ၅ | စက်မှုပြန်စာအရ ပြင်ဆင်ပြီး တင်ပြခြင်း | | ၁၅-၅-၂၀၁၇ | |
| ၆ | MIC သို့ တင်ပြရန် ကုမ္ပဏီမှ အဆိုပြုလွှာ (၈)စုံ လက်ခံရရှိ | | | |
| ၇ | စုစုပေါင်း ကြာမြင့်ရက် | ၁၈၁ | | |

ကုမ္ပဏီအမည် - Nutrifood Products Company Limited.

အဖွဲ့အစည်းပုံသဏ္ဌာန် - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

လုပ်ငန်းအမျိုးအစား - ငါး၊ ပဲအမျိုးမျိုးနှင့် အသီးအနှံများကို စည်သွပ်ခြင်း နှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း

တည်နေရာ - မြေကွက်အမှတ်(၅၂၅)၊ မြေတိုင်းရပ်ကွက်အမှတ် (၂၃)၊ စက်မှုဇုန်(၁)၊ တောင်ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး အတွင်းရှိ မြေ(၅.၃၂၆) ဧက အနက်မှ (၁.၀၀)ဧက

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - အမေရိကန်ဒေါ်လာ ၂.၉၆၀ သန်း

လုပ်ငန်းသက်တမ်း - ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်

အရင်းကြေကာလ - ၆ နှစ် ၉လ

IRR - ၁၆.၆၉%

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါ ဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၂.၁၆ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၀.၆၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၆၂.၀၄ | - |
| ၄ | ဝင်ငွေခွန် | ၄၉၉.၂၀ | ၁၀၂၀.၀၀ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | ၂၃၀.၃၀ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၂၂၅.၁၈ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |
| ၈ | CSR (၂%) | | ၉၄.၂၈ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၂၃၀ ဦး အလုပ်အကိုင် ရရှိမည် ဖြစ် ပါသည်။ |
| ၁၀ | စုစုပေါင်း | ၅၆၃.၄ | ၁၅၇၀.၄၃ |
| ၁၁ | Cost : Benefit | ၁ : ၃ | |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Nutrifood Products Co., Ltd. မှ ငါး၊ ပဲအမျိုးမျိုးနှင့် အသီးအနှံများကိုစည်သွပ်ခြင်း နှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - U Abdul Hafiz@ U Aung Naing |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- May Yu Marine Products Co., Ltd. (၆၀%) (မြန်မာနိုင်ငံ)<br>Indo Suez Trading Pte. Ltd. (၄၀%) (စင်ကာပူနိုင်ငံ) |
| | လုပ်ငန်းအမျိုးအစား | - ငါး၊ ပဲအမျိုးမျိုးနှင့် အသီးအနှံများကို စည်သွပ်ခြင်း နှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်(၅၂၅)၊ မြေတိုင်းရပ်ကွက်အမှတ် (၂၃)၊ စက်မှုဇုန်(၁)၊ တောင်ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - May Yu Marine Products Co., Ltd. (မေယုရေထွက်ကုန်ပစ္စည်းများ ကုမ္ပဏီလီမိတက်) |
| | မြေအကျယ်အဝန်း | - မြေဧရိယာ(၅.၃၂၆) ဧက အနက်မှ (၁.၀၀)ဧက (၄၀၄၆.၈၆ စတုရန်း မီတာ) |
| ၃။ | မြေနှင့်အဆောက်အဦ ငှားရမ်းခနှုန်း | - တစ်နှစ်ငှားရမ်းခ US$ ၂၀,၂၃၄.၃၀ (တစ်နှစ် တစ်စတုရန်းမီတာ= 5 US$) |
| | မြေငှားရမ်းကာလ | - ကနဦး ၅၀ နှစ် (သက်တမ်းတိုး ၁၀နှစ် ၂ ကြိမ်) |
| | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် |
| ၄။ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | - US$ ၂.၉၆၀ သန်း |

| | ထည့်ဝင်သည့်အမျိုးအစား | | | US $ (သန်း) |
|---|---|---|---|---|
| | | ပြည်ပ (US$) | ပြည်တွင်း (US$) | စုစုပေါင်း |
| | ငွေသား | ၀.၁၅၀ | ၁.၃၀၄ | ၁.၄၃၆ |
| | စက်ပစ္စည်းများ | ၁.၀၃၄ | - | ၁.၀၂၂ |
| | အဆောက်အဦ ဆောက်လုပ်မည့် ကုန်ကျစရိတ် | - | ၀.၃၅၀ | ၀.၃၅၀ |
| | ကားများတန်ဖိုး | - | ၀.၀၃၄ | ၀.၀၃၄ |
| | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း | - | ၀.၀၈၈ | ၀.၀၈၈ |
| | **စုစုပေါင်း** | **၁.၁၈၄** | **၁.၇၇၆** | **၂.၉၆၀** |
| ၆။ | ဝန်ထမ်းအင်အား | - ၂၄၈ ဦး | | |
| | ပြည်တွင်း | - ၂၄၀ ဦး (အနိမ့်ဆုံးလစာမှာ ကျပ် ၁၁၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။) | | |
| | ပြည်ပ | - ၈ ဦး (အနိမ့်ဆုံးလစာမှာ US$ ၈၀၀ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၁,၁၀၀ ဖြစ်ပါသည်။) | | |
| ၇။ | ရောင်းချမည့်စနစ် | - ပြည်ပ ၆၀% | | |
| | | - ပြည်တွင်း ၄၀% | | |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမမြောက်နှစ်) | - US$ ၂.၁၀ သန်း | | |
| | အသုံးစရိတ် | - US$ ၁.၆၀သန်း | | |
| | အသားတင်အမြတ် | - US$ ၀.၅၀ သန်း | | |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုး အမြတ် (ဆဋ္ဌမမြောက်နှစ် ) | | | |
| | ဝင်ငွေခွန် | - US$ ၀.၁၆၆ သန်း | | |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၀.၀၃၈ သန်း | | |
| | အရင်းကြေကာလ | - ၆ နှစ် နှင့် ၉ လ | | |

အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) - ၁၆.၆၉%

၁၀။ လျှပ်စစ်ဓါတ်အားသုံးစွဲမှု (ဆဋ္ဌမမြောက်နှစ်) - ၈၅,၀၀၀ kwh

၁၁။ နှစ်စဉ်ထုတ်လုပ်မှု(ဆဋ္ဌမမြောက်နှစ်)

| ပစ္စည်း အမျိုးအစား | အရေအတွက် (Doz) | | ရောင်းချမည့် ဈေးနှုန်း | |
|---|---|---|---|---|
| | ပြည်တွင်း | ပြည်ပ | ပြည်တွင်း (ကျပ်/Doz) | ပြည်ပ (US$/Doz) |
| Fish-(155gm) | ၂၀,၀၀၀ | ၃၀,၀၀၀ | ၆,၀၀၀ | ၆.၀၀ |
| Fish-(425gm) | ၁၈,၀၀၀ | ၂၇,၀၀၀ | ၁၃,၀၀၀ | ၁၂.၀၀ |
| Beans-(155gm) | ၁၈,၀၀၀ | ၂၇,၀၀၀ | ၇,၀၀၀ | ၇.၀၀ |
| Beans-(425gm) | ၁၄,၀၀၀ | ၂၁,၀၀၀ | ၁၆,၀၀၀ | ၁၆.၀၀ |
| Fruits-(155gm) | ၁၄,၀၀၀ | ၂၁,၀၀၀ | ၅,၈၀၀ | ၆.၀၀ |
| Fruits-(455gm) | ၁၂,၀၀၀ | ၁၈,၀၀၀ | ၁၁,၀၀၀ | ၁၀.၀၀ |

၁၂။ မီးဘေးကြိုတင်ကာကွယ်ရေ - မီးဘေးကာကွယ်ရေး စီမံချက်ရေးဆွဲတင်ပြထားပါသည်။

၁၃။ အခြားတင်ပြချက်

- ငွေကြေး အထောက်အထားအဖြစ် CB Bank တွင် May Yu Marine Products Co., Ltd. အမည်ဖြင့် ၃-၁၁-၂၀၁၆ ရက်နေ့စွဲဖြင့် USD ၁၄၂,၂၈၂.၅၁ ၊ United Amara Bank Ltd. တွင် ၁၃-၅-၂၀၁၆ ရက်စွဲဖြင့် USD ၉၀.၂၃ ရှိကြောင်း နှင့် စင်ကာပူနိုင်ငံ UOB Bank တွင် Indo Suez Trading Pte.Ltd အမည်ဖြင့် ၃၁-၅-၂၀၁၆ ရက်စွဲဖြင့် USD ၁၈၀,၉၀၂.၅၀ နှင့် Maybank တွင် Indo Suez Trading Pte.Ltd အမည်ဖြင့် ၃၀-၄-၂၀၁၆ ရက်စွဲဖြင့် SGD ၁၁,၃၁၇.၇၅ ၊ Bank Of China Bank တွင် Indo Suez Trading Pte.Ltd အမည်ဖြင့် ၃၁-၅-၂၀၁၆ ရက်စွဲဖြင့် USD ၁၃,၇၅၃.၄၆ တို့ကို တင်ပြထားပါသည်။
- နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ် ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် လျှောက်ထား လာပါသည်။
- အဆိုပြုချက်နှင့်အတူ ရင်းနှီးမြှုပ်နှံသူများ၏ Passport (မိတ္တူ) များနှင့် နိုင်ငံသားစိစစ်ရေးကဒ် (မိတ္တူ)တို့အား တင်ပြထားပါသည်။

| | | |
|---|---|---|
| ၁၄။ | စိစစ်တင်ပြချက် | - နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်းအမျိုးအစားဖြစ်ပါသည်။<br>- ပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံချက်၊ အလုပ်သမားများ လုပ်ငန်းခွင် ဘေးကင်းလုံခြုံရေးအတွက် ဆောင်ရွက်သွား မည်ဖြစ်ကြောင်း ကတိဝန်ခံချက်၊ မီးဘေးအန္တရာယ် မဖြစ်ပွား ရေးအတွက် လိုအပ်သောအစီအမံများ၊ မီးဘေး ကြိုတင် ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြ ထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၂/ န-၁၄၆ /၂၀၁၆ ( ၄၂၀ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် မေလ ၂၆ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Nutrifood Products Co., Ltd. မှ ငါး၊ အသားနှင့် အသီးအနှံများကို ကုန်ထုတ်လုပ်ခြင်း၊ ပြုပြင် ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်းနှင့် စည်သွပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံ May Yu Marine Products Co., Ltd. (၆၀%) နှင့် စင်ကာပူနိုင်ငံ Indo Suez Trading Pte.Ltd. (၄၀%) တို့ အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Nutrifood Products Co., Ltd. တည်ထောင်ပြီး မြေကွက်အမှတ်(၅၂၅)၊ မြေတိုင်းရပ်ကွက် အမှတ် (၂၃)၊ စက်မှုဇုန်(၁)၊ တောင်ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး အတွင်းရှိ မြေ(၅.၃၂၆) ဧက အနက်မှ (၁.၀၀)ဧက (၄၀၄၆.၈၆ စတုရန်းမီတာ)ကို ငှားရမ်း၍ ငါး၊ ပဲအမျိုးမျိုးနှင့် အသီးအနှံများကို စည်သွပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြ လာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ Nutrifood Products Co., Ltd. နှင့် May Yu Marine Products Co., Ltd. တို့အကြား ချုပ်ဆိုမည့် Joint Venture Agreement (မူကြမ်း) ၊ မြေငှား စာချုပ် (မူကြမ်း) နှင့် မြေ အထောက်အထားများ စသည်တို့ကို တင်ပြထားပါသည်။

၃။ လုပ်ငန်း ဆောင်ရွက်မည့်နေရာသည် May Yu Marine Products Co., Ltd. ရရှိထားသော ရန်ကုန်တိုင်းဒေသကြီး၊ တောင်ဒဂုံမြို့နယ်၊ မြေတိုင်းရပ်အကွက်အမှတ်(၂၃)၊ မြေကွက်အမှတ် (၅၂၅)၊ စက်မှုဇုန် (၁) ၊ မြေ(၅၃၂၆) ဧက အနက်မှ (၁.၀၀ဧက) (၄၀၄၆.၈၆ စတုရန်းမီတာ)အား ကုမ္ပဏီသို့ တစ်နှစ် တစ်စတုရန်း မီတာလျှင် US$ ၅.၀၀နှုန်းဖြင့် ကုမ္ပဏီသို့ ငှားရမ်း မည်ဖြစ်ပါသည်။ တစ်နှစ်ငှားရမ်းခမှာ US$ ၂၀,၂၃၄.၃၀ ဖြစ်ပါ သည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဖြစ်ပါ သည်။ တည်ဆောက်ရေးကာလ မှာ ၁နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ၂.၉၆၀သန်းဖြစ်ပြီး အောက်ပါ အတိုင်း ထည့်ဝင်ထားပါသည်-

US $ (သန်း)

| | ပြည်ပ | ပြည်တွင်း | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၀.၁၅၀ | ၁.၃၀၄ | ၁.၄၅၄ |
| စက်ပစ္စည်းများ | ၁.၀၃၄ | - | ၁.၀၃၄ |
| အဆောက်အဦ | - | ၀.၃၅၀ | ၀.၃၅၀ |
| ကားများတန်ဖိုး | - | ၀.၀၃၄ | ၀.၀၃၄ |
| ပရိဘောဂနှင့်လုပ်ငန်း သုံးပစ္စည်းများ | | ၀.၀၈၈ | ၀.၀၈၈ |
| **စုစုပေါင်း** | **၁.၁၈၄** | **၁.၇၇၆** | **၂.၉၆၀** |

၆။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း (၂၄၀)ဦး နှင့် ပြည်ပ (၈) ဦး စုစုပေါင်း (၂၄၈)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၁၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာ မှာ US$ ၈၀၀ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၁,၁၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော ပစ္စည်းများကို ပြည်ပသို့ ၆၀% နှင့် ပြည်ပသို့ ၄၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှု နှင့် ရောင်းချမှု ဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| ပစ္စည်း အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် ( Doz) | | ရောင်းချမည့်ဈေးနှုန်း | |
|---|---|---|---|---|
| | ပြည်တွင်း | ပြည်ပ | ပြည်တွင်း (Kyat/Doz) | ပြည်ပ (US$/Doz) |
| Fish-(155gm) | ၂၀,၀၀၀ | ၃၀,၀၀၀ | ၆,၀၀၀ | ၆.၀၀ |
| Fish-(425gm) | ၁၈,၀၀၀ | ၂၇,၀၀၀ | ၁၃,၀၀၀ | ၁၂.၀၀ |
| Beans-(155gm) | ၁၈,၀၀၀ | ၂၇,၀၀၀ | ၇,၀၀၀ | ၇.၀၀ |
| Beans-(425gm) | ၁၄,၀၀၀ | ၂၁,၀၀၀ | ၁၆,၀၀၀ | ၁၆.၀၀ |
| Fruits-(155gm) | ၁၄,၀၀၀ | ၂၁,၀၀၀ | ၅,၈၀၀ | ၆.၀၀ |
| Fruits-(455gm) | ၁၂,၀၀၀ | ၁၈,၀၀၀ | ၁၁,၀၀၀ | ၁၀.၀၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | US $ (သန်း) |
|---|---|---|---|
| (က) | ဝင်ငွေ | - | ၂.၁၀ |
| (ခ) | အသုံးစရိတ် | - | ၁.၆၀ |
| (ဂ) | အသားတင်အမြတ် | - | ၀.၅၀ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုး အမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၁၆၆ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် အမေရိကန် ဒေါ်လာ ၀.၀၃၈သန်းတို့ ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၆ နှစ် ၉ လ ဖြစ်ပြီး အရင်းအနှီး အပေါ် အကျိုးအမြတ် ပြန်ပေါ် နှုန်း(IRR) မှာ ၁၆.၆၉% ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ် လာလျှင် ၁၂၀၀ ကျပ်နှုန်း ဖြင့် တွက်ချက် ထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့ နှင့် စက်မှုဝန်ကြီးဌာနတို့သို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြား လာပါသည်-

(က) ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ မှ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား မှတ်ချက် ပြန်ကြားလာပါသည်။ **(နောက်ဆက်တွဲ - က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့မှ** အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ် လာနိုင် သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်း စေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင်ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များကို အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှု (Corporation Social Responsibility - CSR)အတွက် အသားတင် အမြတ်ငွေ၏(၂%) ကို အသုံးပြုခြင်း အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိ

ကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးအတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာ ရေးသားတင်ပြရန်၊ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်းချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း အစီအစဉ် (IEE)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (EMP) တို့ကို ဆောင်ရွက် သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။)**

**(နောက်ဆက်တွဲ-ခ)**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှု နှင့် ဘွိုင်လာအသုံးပြုမှုတို့ကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေး ဆောင်ရွက်ရန်၊ မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေး တို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့်စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁% သုံးစွဲရန်၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်လျှောက်ထား ဆောင်ရွက်ရန်၊ ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာန၊ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာန၏ထောက်ခံချက်ရယူရန်၊ Steam

Jacketted Sauce Kettles, Filling, Seamer နှင့် ပတ်သက်သော စက်ပစ္စည်းများပါရှိပြီး စည်သွပ်ဘူးလုပ်ငန်းနှင့် သက်ဆိုင်သော စက်ပစ္စည်းများဖြစ်ပါကြောင်းနှင့် အရည်အသွေးစစ်ဆေးမှုဆိုင်ရာ ဓါတ်ခွဲသုံးပစ္စည်းများပါဝင်မှုမရှိပါကြောင်း၊ ကုန်ချောထွက်ရှိမှု၊ ဖြန့်ဖြူးရောင်းချမှုအစီအစဉ်များဖော်ပြထားပြီး အသုံးပြုမည့် အဓိကကုန်ကြမ်းများကို ယေဘူယျဖော်ပြထားသော်လည်း အခြားသွယ်ဝိုက် ကုန်ကြမ်းများနှင့် ထုပ်ပိုးပစ္စည်းသုံးစွဲမှု ဖော်ပြထားခြင်းမရှိကြောင်း၊ စိုက်ပျိုးရေးနှင့် မွေးမြူရေးအခြေခံ စားသောက်ကုန်ထုတ်လုပ်မှု လုပ်ငန်းအမျိုးအစားဖြစ်ပါသဖြင့် သက်ဆိုင်ရာဝန်ကြီးဌာနများ၏ ခွင့်ပြုချက်ဖြင့် ထုတ်လုပ်မှုနှင့် ဖြန့်ဖြူးရောင်းချမှုဆောင်ရွက်ရန်လိုအပ်ပါကြောင်း၊ တည်ဆဲဥပဒေ လုပ်ထုံး လုပ်နည်း များနှင့် ညီညွတ်ပါက ကန့်ကွက်ရန်မရှိပါကြောင်းသဘောထားပြန်ကြားထားပါသည်။

**[စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း နှင့် ဆောင်ရွက်ထားရှိမှုကို ဆက်လက် တင်ပြသွားမည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။ (နောက်ဆက်တွဲ - ဂ)**

၁၁။ ငွေကြေး အထောက်အထားအဖြစ် CB Bank တွင် May Yu Marine Products Co., Ltd. အမည်ဖြင့် ၃-၁၁-၂၀၁၆ ရက်နေ့စွဲဖြင့် USD ၁၄၂,၂၈၂.၅၁ ၊ United Amara Bank Ltd. တွင် ၁၃-၅-၂၀၁၆ ရက်စွဲဖြင့် USD ၉၀.၂၃ ရှိကြောင်း နှင့် စင်ကာပူနိုင်ငံ UOB Bank တွင် Indo Suez Trading Pte.Ltd အမည်ဖြင့် ၃၁-၅-၂၀၁၆ ရက်စွဲဖြင့် USD ၁၈၀,၉၀၂.၅၀ နှင့် Maybank တွင် Indo Suez Trading Pte.Ltd အမည်ဖြင့် ၃၀-၄-၂၀၁၆ ရက်စွဲဖြင့် SGD ၁၁,၃၁၇.၇၅ ၊ Bank Of China Bank တွင် Indo Suez Trading Pte.Ltd အမည်ဖြင့် ၃၁-၅-၂၀၁၆ ရက်စွဲဖြင့် USD ၁၃,၇၅၃.၄၆ တို့ကို တင်ပြထားပါသည်။

၁၂။ Nutrifood Products Co., Ltd. မှ တည်နေရာပြမြေပုံ၊ လုပ်ငန်း သဘောသဘာဝ ရှင်းလင်းချက်၊ ရေနှင့် လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့် အစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ် ရေးစီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက် အစီအစဉ်၊ လုပ်ငန်းခွင် သာယာရေးအတွက် ဆောင်ရွက်ထားရှိမှု၊ ကျန်းမာရေးနှင့် လုပ်ငန်းခွင်အန္တရာယ် ကင်းရှင်းရေး ဆောင်ရွက်ထား ရှိမှု၊ ဝန်ထမ်းများအတွက် ကျန်းမာရေး၊ လူမှုရေး စောင့်ရှောက်ထားရှိမည့် အစီအစဉ်များ ကတိဝန်ခံချက်တို့ကို တင်ပြထားပါသည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၂၁ ရက်နေ့တွင် ကျင်းပသော ၄၃/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ **စိစစ်တင်ပြချက်**

(က) နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်း အမျိုးအစား ဖြစ်ပါသည်။

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်းများသည် ကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် ၁၂၃/၂၀၁၆ (၁၆-၁၁-၂၀၁၆)အရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ကို ၂၁-၁၂-၂၀၁၆ ရက်စွဲဖြင့် တင်ပြခဲ့ ပြီး ၎င်းဥပဒေအရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့် ခံစားခွင့်ပြုရန် တင်ပြထား ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Nutrifood Products Co., Ltd. တည်ထောင်၍ ငါး၊ ပဲအမျိုးမျိုးနှင့် အသီးအနှံများကို စည်သွပ်ခြင်း နှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းအပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)
၆/

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

# ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Nutrifood Products Company Limited | May Yu Marine Products Co.,Ltd<br>Represented by: | |
| | | (၁) U Abdul Hafiz@ U Aung Naing<br>Director<br>Mayanmar<br>12/Ba Ta Hta (Naing) 028589 | No.(79/80) Mya Yamon Housing, Ward No.(26), South Dagon Township , Yangon Region. |
| | | (၂) U Myint Oo @ U Abdul Based<br>Director<br>Myanmar<br>12/Ba Ta Hta (Naing) 028683 | No.(33),Kyaik Wine Pagoda Road, Myaing Hay Wun Housing, Ward No.(4), Mayangone Township, Yangon Region |
| | | (၃) U Naing Win Aung<br>Director<br>Myanmar<br>12/Ba Ta Hta (Naing) 035090 | No.(79/80) Mya Yamon Housing, Ward No.(26), South Dagon Township , Yangon Region. |
| | | Indo Suez Trading Pte.Ltd. | |
| | | (၁) Mr.Mohamed Zekare<br>Director<br>Singaporean<br>E 3435007 F | 9 Battery Road, # 15-01, Straits Trading Building, Singapore (049910) |

| | | |
|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - ၀၉- ၅၀၀၇၇၃၄, ၀၉-၉၆၅၀၀၇၇၃၄ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - အမှတ်(၇၉/၈၀)၊ မြယမုံအိမ်ရာ၊ အကွက်အမှတ် (၂၆) ၊တောင်ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - ဦးအောင်နိုင် ဒါရိုက်တာ |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - ငါး၊ ပဲအမျိုးမျိုးနှင့် အသီးအနှံများကို စည်သွပ်ခြင်း နှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - - |

၁၁၉၃ 101/3/4




**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ မတ် လ ၂၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆.၃.၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၂/ န-၁၆၂/၂၀၁၇(၂၃၄)

၁။ မြန်မာနိုင်ငံ May Yu Marine Products Co., Ltd. (၆၀%)နှင့် စင်ကာပူနိုင်ငံ Indo Suez Trading Pte. Ltd. (၄၀%)တို့ အစုရှယ်ယာများထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Nutrifood Products Co., Ltd. တည်ထောင်ပြီး အမှတ်(၅၂၅)၊ မေယုလမ်း၊ စက်မှုဇုန်(၁)၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးအတွင်းရှိ မြေ ၅.၃၂၆ ဧက အနက်မှ (၁.၀၀)ဧက (၄၀၄၆.၈၆ စတုရန်းမီတာ)ကို ငှားရမ်း၍ ငါး၊ ပဲအမျိုးမျိုးနှင့် အသီးအနှံများကို စည်သွပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်း မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၂၃.၃.၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၁/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၄၈)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဥ္စာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Nutrifood Products Co., Ltd.
လက်ခံစာတွဲ/မျှောစာတွဲ

D/2017/Cabinet/11.,(1)

MIC 078/8/13



ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/ MIC(OSS) /ဝ၁( ၉၄/၁၇)
ရက် စွဲ ၊ ၂၀၁၇ ခုနှစ် မတ်လ ၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Nutrifood Products Co., Ltd. မှ ငါး၊ ပဲအမျိုးမျိုးနှင့် အသီးအနှံများကိုစည်သွပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၃-၃-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၂/ န- ၁၆၂/ ၂၀၁၇(၂၂၉)

၁။ မြန်မာနိုင်ငံ May Yu Marine Products Co., Ltd. မှ ၆၀% နှင့် စင်ကာပူနိုင်ငံ Indo Suez Trading Pte.Ltd မှ ၄၀% အစုရှယ်ယာများထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Nutrifood Products Co., Ltd. တည်ထောင်ပြီး အမှတ်- ၅၂၅၊ မေယုလမ်း၊ စက်မှုဇုန်- ၁၊ တောင်ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးအတွင်းရှိ မြေ ၅.၃၂၆ ဧက အနက်မှ ၁.၀၀ ဧက (၄,၀၄၆.၈၆ စတုရန်းမီတာ) ကိုငှားရမ်း၍ ငါး၊ ပဲအမျိုးမျိုးနှင့် အသီးအနှံများကိုစည်သွပ်ခြင်းနှင့်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန်ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ် ဆောင်ရွက်မည်ဖြစ်ကာ လုပ်ငန်းတည်ဆောက်မည့်ကာလ မှာ (၁) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းကို အကျယ်အဝန်း ၁.၀၀ ဧက (၄,၀၄၆.၈၆ စတုရန်းပေ) ပေါ်တွင် (၂၀၀x၁၀၀) ပေရှိ Steel Structure အဆောက်အဦ (၁) လုံးနှင့် (၂၀x၄၀) ပေရှိ ရုံးခန်း (၁) ခန်းကို တည်ဆောက်၍ စည်သွပ်ခြင်းနှင့် ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပြီး ငါးထားသိုရန်အတွက် အအေးခန်းတည်ဆောက်ပြီးဖြစ်ကြောင်း၊

(ဂ) ထုတ်လုပ်မှုအနေဖြင့် ငါး၊ ပဲအမျိုးမျိုးနှင့် အသီးအနှံစည်သွပ်ဘူးအမျိုးအစား (၆) မျိုး ကို ကနဦးနှစ်တွင် (၁) ရက်လျှင် တန်ချိန် (၁၁) တန်ခန့်မှ နှစ် (၃၀) အတွင်း တစ်ရက်လျှင် (၁၄) တန်ကျော်ခန့်အထိ တိုးမြှင့်ထုတ်လုပ်မည်ဖြစ်ပြီး ထုတ်လုပ်မှု၏ (၆၀%) ကို ပြည်ပနှင့် (၄၀%) ကိုပြည်တွင်းသို့ ရောင်းချသွားမည်ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းခွင်သာယာရေးနှင့် သက်သာချောင်ချိရေးစီမံချက်၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်များကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင်ထည့်ဝင် အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုမရှိစေရန် စက်ရုံမှထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများကို ရေဆိုးသန့်စင်သည့်စနစ်ဖြင့်သန့်စင်၍ စွန့်ပစ်မည်ဖြစ်ပြီး ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ အဆိုပြုလုပ်ငန်းများဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Nutrifood Products Co., Ltd. မှ ငါး၊ ပဲအမျိုးမျိုးနှင့် အသီးအနှံများကို စည်သွပ်ခြင်းနှင့်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အသုံးပြုမည့်ကုန်ကြမ်း ပစ္စည်းများသည့် ပုပ်သိုးဆွေးမည့်လွယ်သည့် ပစ္စည်းဖြစ်ခြင်းကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုဖြစ်စေနိုင်ခြင်း၊

(ခ) အအေးခန်းစက်ရုံများတွင် အသုံးပြုမည့်ဓာတ်ငွေ့များကြောင့် အိုဇုန်းလွှာ ထိခိုက်ပျက်စီးစေခြင်းနှင့် လေထုအပေါ်သက်ရောက်မှုရှိနိုင်ခြင်း၊

(ဂ) ထုတ်လုပ်မှုလုပ်ငန်းအဆင့်ဆင့်တွင် စက်ပစ္စည်းများ အသုံးပြုဆောင်ရွက်ရသဖြင့် စက်ယန္တရားများ၏ စွန့်ပစ်ပစ္စည်းများဖြစ်သည့် စက်သုံးဆီ၊ ချောဆီများနှင့် ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် အသံညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊

(ဃ) ဝန်ထမ်းများ၏ မိလ္လာစွန့်ပစ်ပစ္စည်းများ၊ အရည်များကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းစေနိုင်ခြင်း၊

(င) အဆိုပြုလုပ်ငန်းသည် ဆီ၊ ငါး၊ ပဲအမျိုးမျိုးနှင့် ဟင်းသီးဟင်းရွက်များပါဝင်သောအသင့်စားသုံးနိုင်သည့် အစားအစာများပြုလုပ်မည်ဖြစ်ခြင်းကြောင့် ထွက်ရှိမည့်စွန့်ပစ်အရည်များ၊ စွန့်ပစ်ပစ္စည်းများ၊ အခိုးအငွေ့များကြောင့် မြေထု၊ လေထုညစ်ညမ်းပြီး အသုံးပြုမည့်ကုန်ကြမ်းပစ္စည်းများအား စနစ်တကျသိုလှောင်မှုမရှိပါက အနံ့အသက်များထွက်ရှိ၍ ပတ်ဝန်းကျင်ရှိ ပြည်သူများအား အနှောင့်အယှက်ဖြစ်ပေါ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ပြဿနာများ ဖြစ်ပေါ်နိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Nutrifood Products Co., Ltd. မှ ငါး၊ ပဲအမျိုးမျိုးနှင့် အသီးအနှံများကိုစည်သွပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကိုအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့်ကတိကဝတ်များကိုတိတိကျကျလိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE)** ကို ဆောင်ရွက်ပြီးပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)** အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်း ဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ် ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့် အညီ လိုက်နာဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သောဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

၅/၂/၁၇

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၆-၂၀၁၇(၃၄၀၉)
ရက် စွဲ၊ ၂၀၁၇ ခုနှစ်၊ မတ်လ၂၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆.၃.၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၂/ န-၁၆၂ / ၂၀၁၇ (၂၃၅)

၁။ Nutrifood Products Co.,Ltd မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ တောင်ဒဂုံမြို့နယ်၊ စက်မှုဇုန်(၁)၊ မေယုလမ်း၊ အမှတ်(၅၂၅)တွင် ငါး၊ ပဲအမျိုးမျိုးနှင့် အသီးအနှံများကို စည်သွပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုတို့ကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ခ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁ % သုံးစွဲရန် လိုအပ်ပါသည်။

(ဂ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) (Value Added) တန်ဖိုးမြှင့် ကုန်ထုတ်လုပ်ငန်းလုပ်ကိုင်ခြင်းနှင့် အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိနိုင်ပါသည်။

(င) ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာန၊ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာန၏ ထောက်ခံချက်လိုအပ်ပါသည်။

(စ) Steam Jacketted Sauce Kettles, Filling, Seamer နှင့် ပတ်သက်သော စက်ပစ္စည်းများပါရှိပြီး စည်သွပ်ဘူးလုပ်ငန်းနှင့် သက်ဆိုင်သော စက်ပစ္စည်းများဖြစ်ပါကြောင်းနှင့် အရည်အသွေးစစ်ဆေးမှုဆိုင်ရာ ဓါတ်ခွဲခန်းသုံးပစ္စည်းများ ပါဝင်မှုမရှိပါ။

(ဆ) ကုန်ချောထွက်ရှိမှု၊ ဖြန့်ဖြူးရောင်းချမှုအစီအစဉ်များဖော်ပြထားပြီး အသုံးပြုမည့် အဓိကကုန်ကြမ်းများကို ယေဘူယျဖော်ပြထားသော်လည်း အခြားသွယ်ဝိုက်ကုန်ကြမ်းများနှင့် ထုပ်ပိုးပစ္စည်းသုံးစွဲမှုဖော်ပြထားခြင်းမရှိပါ။

(ဇ) စိုက်ပျိုးရေးနှင့်မွေးမြူရေးအခြေခံ စားသောက်ကုန်ထုတ်လုပ်မှု လုပ်ငန်းအမျိုးအစားဖြစ်ပါသဖြင့် သက်ဆိုင်ရာဝန်ကြီးဌာနများ၏ ခွင့်ပြုချက်ဖြင့် ထုတ်လုပ်မှုနှင့် ဖြန့်ဖြူးရောင်းချမှုဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Nutrifood Products Co.,Ltd မှ ငါး၊ ပဲအမျိုးမျိုးနှင့် အသီးအနှံများကို စည်သွပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အထက်ဖော်ပြပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး( ကိုယ်စား )
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

- စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
- မြန်မာ့ဆေးဝါးလုပ်ငန်း
- ရုံးလက်ခံ